အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Good Water (Kawthoung) Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ B.O.T စနစ်ဖြင့် Treated Water Supply လုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန် တနင်္သာရီ တိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br><br><br>လုပ်ငန်းအမျိုးအစား | - Good Water (Kawthoung) Co., Ltd.<br>- ဦးလှဦး<br>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Good Water Corporation Co.,Ltd. (ထိုင်း) ၉၄ %<br>- Mahar Construction Co., Ltd. (မြန်မာ) ၆ %<br>- Treated Water Supply |
| ၂။ | တည်နေရာ | - သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနပိုင် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ပါချန်သစ်တော ကြိုးဝိုင်းအတွင်းရှိမြေဧရိယာ ၁၉၈.၉၀၉ ဧက |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အဦအရေအတွက်<br>နှစ်စဉ်မြေငှားရမ်းခ<br>မြေ/အဆောက်အဦငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန<br>- ၁၉၈.၉၀၉ ဧက<br>-<br>- တစ်နှစ်လျှင် (၁ ဧက ကျပ် ၁၀၀,၀၀၀)<br>- |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၅၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၂နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - အမေရိကန်ဒေါ်လာ ၆.၁သန်း |

| ထည့်ဝင်မည့် အမျိုးအစား | မြန်မာ (US$ သန်း) | နိုင်ငံခြား (US$ သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|
| ငွေသား | ၀.၀၅ | ၁.၇၇ | ၁.၈၂ |
| စက်နှင့် စက်ပစ္စည်း (ပြည်ပ) | - | ၃.၉၆ | ၃.၉၆ |
| အဆောက်အအုံ/ မြေငှားရမ်းခ | ၀.၀၅ | - | ၀.၀၅ |
| အဆောက်အဦကုန်ကျစရိတ် | ၀.၂၇ | - | ၀.၂၇ |
| စုစုပေါင်း | ၀.၃၇ | ၅.၇၃ | ၆.၁၀ |

| | | |
|---|---|---|
| ၇။ | ဝန်ဆောင်မှုနှင့်ဈေးနှုန်း | - ပြည်တွင်း ၁၀၀%<br>**ဝန်ဆောင်မှု အမျိုးအမည်** / **ဝန်ဆောင်မှု အရေအတွက်** / **ဈေးနှုန်း (ကျပ်/cubic meter)**<br>Treated Water Supply / ၁ cubic meter / ၁,၂၀၀ |
| ၈။ | ဝန်ထမ်းခန့်ထားမှု | **ပြည်တွင်း** / **ပြည်ပ**<br>**ဦးရေ** ၃၇ / ၃<br>**အမြင့်ဆုံးလစာ(US$)** ၅၀၀ / ၁,၀၀၀<br>**အနိမ့်ဆုံးလစာ(US$)** ၁၅၀ |
| ၉။ | ဝန်ဆောင်မှုပေးမည့် နေရာများ | - တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့နယ်ရှိ<br>(က) အေးမြကန်သာရပ်ကွက်<br>(ခ) အဏ္ဏဝါရပ်ကွက်<br>(ဂ) ရွှေဟင်္သာရပ်ကွက်<br>(ဃ) အေးရိပ်ငြိမ်ရပ်ကွက်<br>(င) ရွှေပြည်သာရပ်ကွက်<br>(စ) ပိတောက်ရွှေဝါရပ်ကွက်<br>(ဆ) အောင်သုခရပ်ကွက်<br>(ဇ) ရွှေဇင်ယော်ရပ်ကွက်<br>(ဈ) ဘုရင့်နောင်ရပ်ကွက်<br>(ည) သီရိမြိုင်ရပ်ကွက် |
| ၁၀။ | အခြားတင်ပြချက်များ | - အဆိုပြုချက်နှင့်အတူ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနနှင့် Good Water (Kawthoung) Co., Ltd. တို့ချုပ်ဆိုမည့် ငှားရမ်းလုပ်ကိုင်ခြင်းဆိုင်ရာ စာချုပ် (မူကြမ်း)၊ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်Good Water (Kawthoung) Co., Ltd. တို့ချုပ်ဆိုမည့် B.O.T စာချုပ်(မူကြမ်း)၊ ချေးငွေစာချုပ်(မူကြမ်း) နှင့် EIA၊ EMP လိုက်နာဆောင်ရွက်မည့် အစီအစဉ်၊ Good Water (Kawthoung) Co., Ltd. ကုမ္ပဏီမှတ်ပုံတင်ကဒ် (မိတ္တူ)၊ MOA၊AOAနှင့် လုပ်ငန်း၏ Layout Plan များပူးတွဲတင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် ဦးလှဦး အမည်ဖြင့် CB Bank ၌ ၁၄-၃-၂၀၁၈ ရက်နေ့ တွင် ကျပ် ၄,၅၇၆,၉၀၂.၁၃ ရှိကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၁။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း) အား ဥပဒေနှင့်ညီညွတ်မှု ရှိကြောင်းစိစစ်ပြီးဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်း၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်းတင်ပြထားပါသည်။<br>- ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များလျှောက်ထားရန် လိုအပ်ပါသည်။<br>- ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် လုံခြုံရေး၊ တည်ငြိမ်အေးချမ်းရေးနှင့် တရား ဥပဒေစိုးမိုးရေးကော်မတီ၏ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၁၄ ရက်နေ့တွင် ကျင်းပခဲ့သည့် အစည်းအဝေးမှ သဘောတူခွင့်ပြုခဲ့ပါသဖြင့် နိုင်ငံခြားရေးဝန်ကြီးဌာန၏ စိစစ်တင်ပြချက်များအတိုင်း တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ လုပ်ထုံး လုပ်နည်းများနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် ဆုံးဖြတ်ခဲ့ပါကြောင်း တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရကာ - ၅(အ)/အ-၀၁၃/၂၀၁၈(၂၇၃)

ရက်စွဲ၊ ၂၀၁၈ခုနှစ်၊ ဩဂုတ် လ ၂၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Good Water (Kawthoung) Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ B.O.T စနစ်ဖြင့် Treated Water Supply လုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ထိုင်းနိုင်ငံ Good Water Corporation Co., Ltd. မှ(၉၄%) နှင့် မြန်မာနိုင်ငံ Mahar Construction Co., Ltd. မှ(၄%) ထည့်ဝင်ပြီး မြန်မာနိုင်ငံတွင် Good Water (Kawthoung) Co., Ltd. တည်ထောင်ပြီး သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနပိုင် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ပါချန်သစ်တောကြိုးဝိုင်းအတွင်းရှိမြေဧရိယာ ၁၉၈.၉၀၉ ဧကတွင် B.O.T စနစ်ဖြင့် Treated Water Supply လုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနနှင့် Good Water (Kawthoung) Co., Ltd. တို့ချုပ်ဆိုမည့် ငှားရမ်းလုပ်ကိုင်ခြင်းဆိုင်ရာစာချုပ်(မူကြမ်း)၊ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Good Water (Kawthoung) Co., Ltd. တို့ချုပ်ဆိုမည့် B.O.T စာချုပ်(မူကြမ်း)၊ ချေးငွေစာချုပ်(မူကြမ်း) နှင့် EIA၊ EMP လိုက်နာဆောင်ရွက်မည့်အစီအစဉ်၊ Good Water (Kawthoung) Co., Ltd.၏ကုမ္ပဏီမှတ်ပုံတင်ကဒ်(မိတ္တူ)၊ MOA၊AOAနှင့် လုပ်ငန်း၏ Layout Plan များပူးတွဲတင်ပြထားပါသည်။

၃။ နှစ်စဉ်မြေငှားရမ်းခမှာ ၁ ဧကလျှင် ကျပ် ၁၀၀,၀၀၀ နှုန်းဖြင့် စုစုပေါင်းမြေ ၁၉၈.၉၀၉ ဧကအတွက် ကျပ် ၁၉,၈၉၀,၉၀၀ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၅၀ နှစ်ဖြစ်ပြီးတည်ဆောက်ရေး ကာလမှာ ၂ နှစ် ကြာမြင့်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ US$ ၆.၁၀ သန်းဖြစ်ပြီး ချေးငွေ ၄.၉၈ သန်း ပါဝင်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| **ထည့်ဝင်မည့် အမျိုးအစား** | **နိုင်ငံခြား** US$ (သန်း) | **မြန်မာ** US$ (သန်း) | **စုစုပေါင်း** US$( သန်း) |
|---|---|---|---|
| ငွေသား | ၁.၇၇ | ၀.၀၅ | ၁.၈၂ |
| စက်နှင့် စက်ပစ္စည်း (ပြည်ပ) | ၃.၉၆ | - | ၃.၉၆ |
| အဆောက်အအုံ/ မြေငှားရမ်းခ | - | ၀.၀၅ | ၀.၀၅ |
| အဆောက်အဦဆောက်လုပ်မှုကုန်ကျစရိတ် | - | ၀.၂၇ | ၀.၂၇ |
| စုစုပေါင်း | ၅.၇၃ | ၀.၃၇ | ၆.၁၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှဝန်ထမ်း (၃၇) ဦးနှင့် ပြည်ပဝန်ထမ်း(၃) ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၅၀၊ အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၅၀၀ နှင့် ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ အမေရိကန်ဒေါ်လာ ၁,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်း:Treated Water Supply ကိုပြည်တွင်းတွင် ၁၀၀% ဝန်ဆောင်မှုပေးမည်ဖြစ်ပါသည်။ ဝန်ဆောင်မှုအရေအတွက်နှင့်ဈေးနှုန်းများမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| | **ဝန်ဆောင်မှုအမျိုးအမည်** | **ဝန်ဆောင်မှု အရေအတွက်** | **ဈေးနှုန်း** (ကျပ်/cubic meter) |
|---|---|---|---|
| (က) | Treated Water Supply | ၁ cubic meter | ၁,၂၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနသို့ ၁၆-၈-၂၀၁၈ ရက်နေ့တွင် သဘောထားမှတ်ချက် တောင်းခံထားပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် ဦးလှဦး အမည်ဖြင့် CB Bank ၌ ၁၄-၃-၂၀၁၈ ရက်နေ့တွင် ကျပ် ၄,၅၇၆,၉၀၂.၁၃ ရှိကြောင်းတင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်းတင်ပြထားပါသည်။

(ဂ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

(ဃ) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် လုံခြုံရေး၊ တည်ငြိမ်အေးချမ်းရေးနှင့် တရားဥပဒေစိုးမိုးရေးကော်မတီ၏ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၁၄ ရက်နေ့တွင် ကျင်းပခဲ့သည့် အစည်းအဝေးမှ သဘောတူခွင့်ပြုခဲ့ပါသဖြင့် နိုင်ငံခြားရေးဝန်ကြီးဌာန၏ စိစစ် တင်ပြချက်များအတိုင်း တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် ဆုံးဖြတ်ခဲ့ကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Good Water (Kawthoung)Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ B.O.T စနစ်ဖြင့် Treated Water Supply လုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေး ရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

လျှို့ဝှက်




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နိုင်ငံတော်သမ္မတရုံး
**နိုင်ငံရေးနှင့်လုံခြုံရေးဌာနကြီး**

စာအမှတ်၊ ၅၁၁ ( ၇၃ ) / ၁၂ / သမ္မတရုံး
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၇ ရက်

သို့

နိုင်ငံခြားရေးဝန်ကြီးဌာန
တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

အကြောင်းအရာ။ **ကော့သောင်းမြို့ ရေပေးဝေရေးအတွက် သစ်တောကြိုးဝိုင်းမြေအား အသုံးပြုခွင့်နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) နိုင်ငံခြားရေးဝန်ကြီးဌာန၏ ၂-၂-၂၀၁၇ ရက်စွဲပါစာအမှတ်၊ ၄၂ ၀၅ (၃၂) ၂၄(၇၆)

(၂) လုံခြုံရေး၊ တည်ငြိမ်အေးချမ်းရေးနှင့် တရားဥပဒေစိုးမိုးရေးကော်မတီ၏ ၂၄ - ၂ - ၂၀၁၇ ရက်စွဲပါစာအမှတ်၊ ပထရ/ကော်မတီ(၁၁၉)/ဦး ၁

ကော့သောင်းမြို့ ရေပေးဝေရေးအတွက် သစ်တောကြိုးဝိုင်းမြေအား အသုံးပြုခွင့်နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် နိုင်ငံခြားရေးဝန်ကြီးဌာနမှ ရည်ညွှန်း(၁)ပါစာဖြင့် တင်ပြလာမှုနှင့်စပ်လျဉ်း၍ လုံခြုံရေး၊ တည်ငြိမ်အေးချမ်းရေးနှင့် တရားဥပဒေစိုးမိုးရေးကော်မတီ အစည်းအဝေးအမှတ်စဉ်( ၃/၂၀၁၇ )မှ နိုင်ငံခြားရေးဝန်ကြီးဌာန၏ စိစစ်တင်ပြချက်အတိုင်း တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန်ဟု ဆုံးဖြတ်ခဲ့ပါသဖြင့် သိရှိဆောင်ရွက်သွားရန် အကြောင်းကြားအပ်ပါသည်။

ကျော်ကျော်ဟန်
ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
လုံခြုံရေး၊တည်ငြိမ်အေးချမ်းရေးနှင့်တရားဥပဒေစိုးမိုးရေးကော်မတီ
နိုင်ငံတော်အတိုင်ပင်ခံရုံးဝန်ကြီးဌာန
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

လျှို့ဝှက်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

လုံခြုံရေး၊ တည်ငြိမ်အေးချမ်းရေးနှင့် တရားဥပဒေစိုးမိုးရေးကော်မတီ

စာအမှတ် ၊ ပထရ / ကော်မတီ(၁၇၉ )/ ဦး ၁

ရက် စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၄ ရက်

သို့

နိုင်ငံတော်သမ္မတရုံး

အကြောင်းအရာ။ **ကော့သောင်းမြို့ ရေပေးဝေရေးအတွက် သစ်တောကြိုးဝိုင်းမြေအား အသုံးပြုခွင့်ပြုနိုင်ပါရန်နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် တင်ပြခြင်း**

ရည် ညွှန်း ချက်။ (၁) ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ ၆-၁၀-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ၉၆၃/ ၂၁၂-ရေပေးဝေ ၂-၃/ အဖရ(၂၀၁၆)

(၂) လုံခြုံရေး၊ တည်ငြိမ်အေးချမ်းရေးနှင့် တရားဥပဒေစိုးမိုးရေးကော်မတီ၏ ၃၀-၁၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ပထရ/ကော်မတီ(၃၃၁)/ ဦး ၁

၁။ ကော့သောင်းမြို့ရေပေးဝေရေးအတွက် သစ်တောကြိုးဝိုင်းမြေအားအသုံးပြုခွင့်နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုနိုင်ပါရန်တင်ပြခြင်းကိစ္စနှင့်စပ်လျဉ်း၍ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ တင်ပြမှုအပေါ်ပြည်ထောင်စုအစိုးရအဖွဲ့ရုံးမှ လုံခြုံရေး၊ တည်ငြိမ်အေးချမ်းရေးနှင့် တရားဥပဒေစိုးမိုးရေးကော်မတီသို့ ရည်ညွှန်းပါစာဖြင့် အမှုတွဲလွှဲပြောင်းပေးပို့ခဲ့ရာ ၂၂-၁၁-၂၀၁၆ ရက်နေ့၌ ကျင်းပပြုလုပ်ခဲ့သည့် ကော်မတီအစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၆)တွင် နှစ်နိုင်ငံနယ်နိမိတ်အငြင်းပွားမှု မဖြစ်စေရေးအတွက်သတိပြုရမည်ဖြစ်သောကြောင့် အဆိုပါမြေနေရာသည် ထိုင်းနိုင်ငံနယ်နိမိတ်အတွင်း ကျရောက်ခြင်းရှိ/မရှိ၊ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ သေချာစွာစိစစ်ပြီး နိုင်ငံခြားရေးဝန်ကြီးဌာနသို့ တင်ပြဆောင်ရွက်သွားရန်နှင့် နိုင်ငံခြားရေးဝန်ကြီးဌာနမှ စိစစ်တွေ့ရှိချက်များအား ပြန်လည်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါဆုံးဖြတ်ချက်အရ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၄ ရက်နေ့၌ကျင်းပပြုလုပ်ခဲ့သည့် လုံခြုံရေး၊တည်ငြိမ်အေးချမ်းရေးနှင့်တရားဥပဒေစိုးမိုးရေးကော်မတီ၏ အစည်းအဝေးအမှတ်စဉ် (၃/၂၀၁၇)တွင် နိုင်ငံခြားရေးဝန်ကြီးဌာနမှ ပြန်လည်စိစစ်တင်ပြလာရာ အောက်ပါအချက်များအား စိစစ်ဖော်ထုတ်တွေ့ရှိခဲ့ပါသည် -

(က) လုပ်ငန်းဆောင်ရွက်မည့်နေရာသည် မြန်မာနိုင်ငံအတွင်းကျရောက်လျက်ရှိခြင်း၊ ထိုင်းနိုင်ငံနှင့်သက်ဆိုင်မှုမရှိခြင်း၊ ရေဝေရေလဲဒေသသည်လည်း မြန်မာနိုင်ငံတွင်း တည်ရှိပြီးရေထွက်ပင်ရင်းမှရေများကို ရယူသုံးစွဲရာ၌ ထိုင်းနိုင်ငံအကျိုးစီးပွားကိုထိခိုက်မှုမရှိနိုင်ခြင်းနှင့် ကော့သောင်းမြို့နယ် သောက်သုံးရေပေးဝေရေးလုပ်ငန်းသည် အမှန်တကယ်လိုအပ်လျက်ရှိသဖြင့် လွှတ်တော်ကိုယ်စားလှယ်များနှင့်

မြို့နယ်ပြည်သူများက ထောက်ခံတင်ပြလာခြင်းကြောင့် နိုင်ငံခြားရေးဝန်ကြီးဌာန အနေဖြင့်သီးခြားမှတ်ချက်ပေးရန်မရှိပါကြောင်း။

(ခ) အဆိုပါနေရာ၌ မြန်မာ-ထိုင်းနယ်နိမိတ်မှာပါချန်မြစ်အတိုင်းဖြစ်ပြီး မြစ်အတွင်း နယ်နိမိတ်ကို စနစ်တကျတိုင်းတာသတ်မှတ်ထားခြင်းမရှိသေးသောကြောင့် နယ်နိမိတ်မြစ်ရေကိုရယူသုံးစွဲခြင်းနှင့် နယ်နိမိတ်မြစ်အတွင်း တည်ဆောက်မှုများ ပြုလုပ်ရန်ရှိမှသာ တစ်ဖက်နိုင်ငံသို့သံတမန်လမ်းကြောင်းမှ ကြိုတင်အသိပေးရန် လိုအပ်ပါကြောင်း။

(ဂ) ကုန်းပိုင်းနယ်နိမိတ်နှင့်ဆက်စပ်သည့်ကိစ္စများနှင့်ပတ်သက်၍ နယ်နိမိတ်မျဉ်းအနီး မိမိဘက်အခြမ်းတွင် တည်ဆောက်မှုများပြုလုပ်မည်ဆိုပါက နယ်နိမိတ်မျဉ်း သွယ်တန်းမှုကို ဦးစွာသိရှိရန်လိုအပ်ပြီး နယ်နိမိတ်မျဉ်းသွယ်တန်းမှု (ဥပမာ - နယ်နိမိတ်ရေဝေကြောကိုမထိခိုက်ရန်) လိုအပ်ပါကြောင်း။

(ဃ) အလားတူတစ်ဖက်နိုင်ငံမှ ဆောင်ရွက်လာပါကလည်း မိမိဘက်မှကန့်ကွက်မှုများ ပြုလုပ်ရန်လိုအပ်ပါကြောင်း။

၃။ လွှဲပြောင်းအမှုတွဲအပေါ်ဖော်ထုတ်ချက်များကို စုပေါင်းဆွေးနွေးသုံးသပ်ခဲ့ရာ **ကော်မတီမှသဘောတူ ခွင့်ပြုသဖြင့် နိုင်ငံခြားရေးဝန်ကြီးဌာန၏စိစစ်တင်ပြချက်အတိုင်း တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန်** ဆုံးဖြတ်ခဲ့ပါသည်။

၄။ သို့ဖြစ်ပါ၍ "ကော့သောင်းမြို့၊ ရေပေးဝေရေးအတွက် သစ်တောကြိုးဝိုင်းမြေအား အသုံးပြုခွင့်ပြုနိုင်ပါရန်နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် တင်ပြခြင်း ကိစ္စ" လွှဲပြောင်းအမှုတွဲအပေါ် လုံခြုံရေး၊တည်ငြိမ် အေးချမ်းရေးနှင့် တရားဥပဒေစိုးမိုးရေးကော်မတီ၏ အစည်းအဝေးဆုံးဖြတ်ချက်အား သိရှိလမ်းညွှန်မှုပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

**ပူးတွဲ။ နိုင်ငံခြားရေးဝန်ကြီးဌာန၏ တင်ပြစာ(၁)စောင်**

အတွင်းရေးမှူး
( ရဲချုပ်၊ ရဲချုပ် ဇော်ဝင်း )

**မိတ္တူ**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
နိုင်ငံခြားရေးဝန်ကြီးဌာန
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့
ရုံးလက်ခံ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
နိုင်ငံခြားရေးဝန်ကြီးဌာန

စာအမှတ်၊ ၄၂ ၀၅ (၃၂) ၂၄ ( ၇၆ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၂ ရက်

လုံခြုံရေး၊ တည်ငြိမ်အေးချမ်းရေးနှင့်တရားဥပဒေစိုးမိုးရေးကော်မတီ

အကြောင်းအရာ။ **ကော့သောင်းမြို့ ရေပေးဝေရေးအတွက် သစ်တောကြိုးဝိုင်းမြေအား အသုံးပြုခွင့်နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ နိုင်ငံခြားရေးဝန်ကြီးဌာန၏ ၂၈-၁၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ၄၂ ၀၅ (၃၂) ၂၄ (၅၁၉)

၁။ အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍(၂၂-၁၁-၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် လုံခြုံရေး၊ တည်ငြိမ်အေးချမ်းရေးနှင့် တရားဥပဒေစိုးမိုးရေးကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၆) တွင် ဆွေးနွေးခဲ့ရာ၊ နှစ်နိုင်ငံနယ်နိမိတ် အငြင်းပွားမှု မဖြစ်စေရေးအတွက် သတိပြုရမည် ဖြစ်သောကြောင့် အဆိုပါမြေနေရာသည် ထိုင်းနိုင်ငံနယ်နိမိတ်အတွင်း ကျရောက်ခြင်း ရှိ-မရှိ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ သေချာစွာစိစစ်ပြီး၊ နိုင်ငံခြားရေးဝန်ကြီးဌာနသို့ တင်ပြဆောင်ရွက်သွားရန်နှင့် နိုင်ငံခြားရေးဝန်ကြီးဌာနမှ စိစစ်တွေ့ရှိချက်များအား ကော်မတီသို့ တင်ပြရန် ဆုံးဖြတ်ခဲ့သည့်အတွက် ရည်ညွှန်းချက်ပါစာဖြင့် စိစစ်ပေးပို့ခဲ့ပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ နိုင်ငံခြားရေးဝန်ကြီးဌာနမှ ထပ်မံ၍ စိစစ်တွေ့ရှိချက်နှင့် သဘောထားမှတ်ချက်များအား အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

(က) ကော့သောင်းမြို့တွင် Good Water (Kawthoung) Co., Ltd. မှ ရေပေးဝေရေးလုပ်ငန်းဆောင်ရွက်မည့်နေရာသည် မြန်မာနိုင်ငံအတွင်း ကျရောက်လျက်ရှိပြီး၊ မြန်မာ-ထိုင်း နယ်နိမိတ်နှင့် (၁၅)မိုင်ခန့် ကွာဝေးခြင်း၊ ရေထွက်ပင်ရင်းဖြစ်သည့် (၁၄)မိုင် ဘန်းကချွန်ရေတံခွန်သည် မြန်မာနိုင်ငံအတွင်း တည်ရှိပြီး၊ ထိုင်းနိုင်ငံနှင့် သက်ဆိုင်မှု မရှိခြင်း၊ ရေဝေရေလဲဒေသသည်လည်း မြန်မာနိုင်ငံအတွင်း တည်ရှိပြီး၊ ထိုင်းနိုင်ငံနှင့် သက်ဆိုင်မှု မရှိခြင်း၊ ရေထွက်ပင်ရင်းမှ ရေများကို ရယူသုံးစွဲရာတွင်လည်း ထိုင်းနိုင်ငံ၏ အကျိုးစီးပွားကို ထိခိုက်မှု မရှိနိုင်ခြင်း၊ ကော့သောင်းမြို့နယ်တွင် သောက်သုံးရေ ပေးဝေရေးလုပ်ငန်းသည် အမှန်တကယ် လိုအပ်လျက်ရှိသဖြင့် လွှတ်တော်ကိုယ်စားလှယ်များနှင့် မြို့နေပြည်သူများက ထောက်ခံတင်ပြလာကြောင်း

တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့မှ စိစစ်တင်ပြလာခြင်းတို့ကြောင့် ဤဝန်ကြီးဌာနအနေဖြင့် သီးခြားမှတ်ချက်ပေးရန် မရှိပါ။

(ခ) အဆိုပါနေရာတွင် မြန်မာ-ထိုင်း နယ်နိမိတ်မှာ ပတ်ချန်မြစ်အတိုင်းဖြစ်ပြီး၊ မြစ်အတွင်း နယ်နိမိတ်ကို စနစ်တကျတိုင်းတာ သတ်မှတ်ထားခြင်း မရှိသေးသောကြောင့် နယ်နိမိတ်မြစ်ရေကို ရယူသုံးစွဲခြင်း၊ နယ်နိမိတ်မြစ်အတွင်း တည်ဆောက်မှုများ ပြုလုပ်ရန် ရှိမှသာ တစ်ဖက်သို့ သံတမန်လမ်းကြောင်းမှ ကြိုတင်အသိပေးရန် လိုအပ်ပါသည်။

(ဂ) ကုန်းပိုင်းနယ်နိမိတ်နှင့် ဆက်စပ်သည့်ကိစ္စများနှင့် ပတ်သက်၍ နယ်နိမိတ်မျဉ်းအနီး မိမိဘက်အခြမ်းတွင် တည်ဆောက်မှုများ ပြုလုပ်မည်ဆိုပါက နယ်နိမိတ်မျဉ်းသွယ်တန်းမှုကို ဦးစွာသိရှိရန် လိုအပ်ပြီး၊ နယ်နိမိတ်မျဉ်းသွယ်တန်းမှု ဥပမာ- နယ်နိမိတ်ရေဝေကြောကို မထိခိုက် ရန် လိုအပ်ပါကြောင်းနှင့် အလားတူ တစ်ဖက်မှ ဆောင်ရွက်လာပါကလည်း မိမိဘက်မှ ကန့်ကွက်မှုများ ပြုလုပ်ရန် လိုအပ်ပါသည်။

၃။ နိုင်ငံခြားရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား သိရှိနိုင်ပါရန်နှင့် တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့က ပေးပို့လာသည့် စိစစ်တွေ့ရှိချက် အစီရင်ခံစာကို ဤစာနှင့်အတူ ပူးတွဲပေးပို့အပ်ပါသည်။

( စိန်ဦး )
ညွှန်ကြားရေးမှူးချုပ်
ကောင်စစ်ရေးရာနှင့်ဥပဒေရေးရာဦးစီးဌာန

မိတ္တူ

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့